ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊ ရက- ၇(ခ)/နှ-၆၉၄ / ၂၀၁၂ ( ၁၁၃၉၂ )
ရက်စွဲ၊ ၂၀၁၂ ခုနှစ်၊ အောက်တိုဘာလ ၂၇ ရက်

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့**
**တင်ပြသည့် အမှာစာ**

အကြောင်းအရာ။ **Myanmar New Hope Farms Co., Ltd. တည်ထောင်၍ တိရိစ္ဆာန်အစာစပ်စက်ရုံ တည်ဆောက်ကာ ကြက်၊ ဘဲ၊ တိရစ္ဆာန် ၊ ပုစွန် နှင့် ငါးအစာများ ထုတ်လုပ် ပြုပြင် ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြလာခြင်းကိစ္စ**

၁။ စင်ကာပူနိုင်ငံ၊ New Hope Singapore Pte., Ltd. မှ မြန်မာနိုင်ငံတွင် Myanmar New Hope Farms Co., Ltd. တည်ထောင်ကာ ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့ပိုင် ပဲခူးမြို့နယ်၊ ညောင်အင်းရွာ၊ တိုက်ကြီး-ပဲခူး အဝေးပြေးလမ်းမ၊ စက်မှုဇုန်ဧရိယာ၊ အကွက် အမှတ် (၃၃) ရှိ မြေ (၅.၇၉) ဧက (၂၃,၄၁၁.၅၆ စတုရန်းကီလိုမီတာ) အား ကနဦး နှစ်(၃၀) ငှားရမ်းပြီး ရာနှုန်းပြည့် နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုအဖြစ် တိရိစ္ဆာန် အစာစပ်စက်ရုံ တည်ဆောက်ကာ ကြက်၊ ဘဲ၊ တိရစ္ဆာန်၊ ပုစွန် နှင့် ငါးအစာများ ထုတ်လုပ် ပြုပြင် ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်း ဆောင်ရွက် ခွင့်ပြုပါရန် အဆိုပြု တင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်အတူ ပဲခူးတိုင်းဒေသကြီး အစိုးရအဖွဲ့ နှင့် Myanmar New Hope Farms Co., Ltd. တို့ လက်မှတ်ရေးထိုးချုပ်ဆိုထားသည့် မြေငှားရမ်းခြင်း စာချုပ်၊ မြေငှားရမ်းခြင်းအား သဘောတူကြောင်း ပဲခူးတိုင်းဒေသကြီး အစိုးရအဖွဲ့ အစည်းအဝေးမှတ်တမ်း (ကောက်နှုတ်ချက်) နှင့် လုပ်ငန်း တည်နေရာပြ မြေပုံကြမ်းများကို ပူးတွဲ တင်ပြထားပါသည်။

၃။ လုပ်ငန်း၏ စုစုပေါင်း ရင်းနှီးမြှုပ်နှံမှုမှာ US$ ၅.၆၀၀ သန်း ဖြစ်ပြီး ငွေသား US$ ၁.၃၁၇ သန်း၊ ပြည်ပမှ တင်သွင်းမည့် စက်ပစ္စည်း တန်ဖိုး US$ ၁.၀၇၃ သန်း၊ ပြည်တွင်းမှ ဝယ်ယူမည့် စက်ပစ္စည်း တန်ဖိုး US$ ၀.၁၆၃ သန်း၊ ဆောက်လုပ်မည့် အဆောက်အအုံ တန်ဖိုး US$ ၃.၀၀၀သန်းနှင့် ပြည်တွင်းမှ ဝယ်ယူမည့် ပရိဘောဂပစ္စည်း တန်ဖိုး US$ ၀.၀၄၇ သန်းတို့ ပါဝင်ပါသည်။

၄။ လုပ်ငန်း သက်တမ်းကာလမှာ ကနဦးနှစ်(၃၀)နှင့် နှစ်ဖက် သဘောတူညီချက်အရ နောက်ထပ် (၁၅)နှစ် တိုးမြှင့်မည် ဖြစ်ကြောင်း၊ တည်ဆောက်မှု ကာလမှာ (၁၂)လ ဖြစ်ပြီး ကော်မရှင် ခွင့်ပြုမိန့် ရရှိပြီး (၆)လအတွင်း စတင် ဆောင်ရွက်မည် ဖြစ်ကြောင်း တင်ပြထားပါသည်။

၅။ လုပ်ငန်း ဆောင်ရွက်မည့် မြေ (၅.၇၉) ဧက (၂၃,၄၁၁.၅၆ စတုရန်း ကီလိုမီတာ) အား ပထမ (၁၀)နှစ်အတွက် တစ်နှစ်လျှင် တစ်စတုရန်း မီတာ US$ ၂ နှုန်းဖြင့် လည်းကောင်း၊ ဒုတိယ (၁၀)နှစ်အတွက် တစ်နှစ်လျှင် တစ်စတုရန်း မီတာ US$ ၂.၅ နှုန်းဖြင့် လည်းကောင်း၊ တတိယ

(၁၀)နှစ်အတွက် တစ်နှစ်လျှင် တစ်စတုရန်း မီတာ US$ ၃ နှုန်းဖြင့် လည်းကောင်း ငှားရမ်းမည် ဖြစ်ပါသည်။

၆။ ပဲခူးတိုင်း ဒေသကြီး အစိုးရအဖွဲ့မှ တိုင်းဒေသကြီးနှင့် နိုင်ငံတော်အတွင်း မွေးမြူရေး လုပ်ငန်းများ အထောက်အကူပြုနိုင်ရန်နှင့် အလုပ်အကိုင် အခွင့်အလမ်းများ ရရှိစေရေးအတွက် Myanmar New Hope Farms Co., Ltd. သို့ တိရစ္ဆာန် အစာစပ်စက်ရုံ တည်ဆောက်၍ ရင်းနှီး မြှုပ်နှံခွင့်ပြုနိုင်ရေးအတွက် ထောက်ခံ တင်ပြထားပါသည်။ **ပူးတွဲ-၁**

၇။ မွေးမြူရေးနှင့် ရေလုပ်ငန်း ဝန်ကြီးဌာနမှ အဆိုပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ ဒေသ ဖွံ့ဖြိုး ရေးနှင့် ဒေသခံ ပြည်သူများအတွက် အလုပ်အကိုင် အခွင့်အလမ်းများ ရရှိမည် ဖြစ်ပြီး၊ ခေတ်မီ နည်းပညာများ တိုးပွားရရှိစေမည် ဖြစ်ပါကြောင်း၊ တိရစ္ဆာန် အစာစပ် စက်ရုံ တည်ဆောက်ခြင်းဖြင့် ပဲခူးတိုင်းဒေသကြီးအတွင်းတွင် မွေးမြူရေးနှင့် ရေလုပ်ငန်းများကို အထောက်အကူပြုနိုင်မည် ဖြစ်ပါကြောင်း၊ နိုင်ငံတော်မှ မြေငှားရမ်းခ ရရှိခြင်းဖြင့် နိုင်ငံတော်အတွက် ဝင်ငွေ ရရှိနိုင်မည် ဖြစ်ပါကြောင်း၊ အဆိုပြုလုပ်ငန်းအား ကန့်ကွက်ရန် မရှိပါကြောင်း သဘောထား ပြန်ကြားထား ပါသည်။ **ပူးတွဲ-၂**

၈။ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာနမှ Myanmar New Hope Farms Co., Ltd. မှ တိရစ္ဆာန် အစာစပ်စက်ရုံ တည်ဆောက်ကာ ကြက်၊ဘဲ၊ပုစွန်၊ ငါးနှင့် တိရစ္ဆာန် အစာများ ထုတ်လုပ်ခြင်း၊ ပြုပြင်ခြင်း၊ ရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခြင်းကြောင့် ဖြစ်ပေါ်လာ နိုင်သည့် ပတ်ဝန်းကျင်နှင့် လူမှုရေး ထိခိုက်မှုများကို ရှောင်ရှားနိုင်ရန်အတွက် လုပ်ငန်း လည်ပတ် ခြင်းနှင့် ထုတ်လုပ်ခြင်း အဆင့်ဆင့်တို့၏ စီမံကိန်းဆိုင်ရာ အချက်အလက်များ ပြည့်စုံစွာ ဖော်ပြပြီး၊ ပတ်ဝန်းကျင် ထိခိုက် ပျက်စီးမှု အနည်းဆုံး ဖြစ်စေရန် ဆောင်ရွက်နိုင်မည့် အစီအစဉ်များကို ထည့်သွင်း ဆောင်ရွက်သွားနိုင်ရေးအတွက် ပတ်ဝန်းကျင် ထိခိုက်ပျက်စီးမှု ရှိ-မရှိကို ကနဦး ပတ်ဝန်းကျင် စစ်ဆေးမှု (Initial Environmental Examination- IEE) ဖြင့် ကြိုတင် လေ့လာ ဆန်းစစ်ပြီး၊ အဆိုပါ စစ်ဆေးချက်နှင့်အညီ ပတ်ဝန်းကျင် စီမံခန့်ခွဲမှုဆိုင်ရာ စီမံချက် (Environmental Management Plan) ရေးဆွဲ တင်ပြ၍ စီမံချက်ပါအတိုင်း အကောင်အထည် ဖော် ဆောင်ရွက်သွားရန်နှင့် ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဥပဒေပါ ပြဋ္ဌာန်းချက်များကို လိုက်နာ ဆောင်ရွက်ရန် လိုအပ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားထားပါသည်။ **ပူးတွဲ-၃**

၉။ ပဲခူးတိုင်းဒေသကြီး အစိုးရအဖွဲ့နှင့် New Hope Singapore Pte., Ltd. တို့၏ Land Lease Agreement နှင့် စပ်လျဉ်း၍ ပြည်ထောင်စု ရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်အရ စိစစ် တွေ့ရှိချက်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်- **ပူးတွဲ-၄**

(က) မြေငှားရမ်းမည့် ကုမ္ပဏီအမည်နှင့် စပ်လျဉ်း၍ ရည်ညွှန်းစာတွင် New Hope Singapore Pte., Ltd. ဟု ဖော်ပြထားပြီး စာချုပ်(မူကြမ်း)၏ စာချုပ်ဝင်များ အပိုဒ် တွင် Myanmar New Hope Farms Co., Ltd. ဟု ဖော်ပြထား၍ စာချုပ်ဝင်အမည်နှင့်စပ်လျဉ်း၍ ရှင်းလင်းမှုရှိစေရန် ပြန်လည် စိစစ်သင့်ပါကြောင်း၊

(ခ) စာချုပ်(မူကြမ်း) အပိုဒ် II Annual Rental and Payment Terms တွင် ပေးသွင်း ရမည့် မြေငှားရမ်းခကို တိကျစွာ ဖော်ပြရန် လိုအပ်ပါကြောင်း၊ ထို့ပြင် အပိုဒ်ခွဲ 2.02 တွင် နှစ်စဉ်ငှားရမ်းခကို financial year နှင့် တွက်ချက်ပြီး ပေးသွင်းရန် ဖော်ပြ

ထားပါကြောင်း၊ ပထမဆုံးနှစ်အတွက် အဆင်ပြေမည် မဟုတ်ဟု ယူဆသဖြင့် ယင်းနှစ်အတွက် သီးခြား စည်းကမ်းချက်ဖြင့် ဖော်ပြသင့်ပါကြောင်း၊

(ဂ) စာချုပ်(မူကြမ်း) အပိုဒ် XVIII Integral Part of the Contract Regarding One Hundred Percent Foreign Investment ခေါင်းစဉ်အောက်ရှိ အပိုဒ်ခွဲ 18.01 တွင် ဤမြေငှားစာချုပ်သည် PFI Industries Factory ထူထောင်ခြင်းအတွက် စာချုပ်ဝင်များအကြား တစ်နေ့တည်း လက်မှတ်ရေးထိုးသော Contract Regarding 100% Foreign Investment ၏ တစ်စိတ်တစ်ဒေသ ဖြစ်သည်ဟု ဖော်ပြထားပါကြောင်း၊ သို့ရာတွင် ရည်ညွှန်းစာနှင့်အတူ အဆိုပါ စာချုပ်ပါရှိလာခြင်း မရှိသဖြင့် ဌာနမှ ပြန်လည်စိစစ်ရန် ဖြစ်ပါကြောင်း၊

(ဃ) မြေငှားစာချုပ်များတွင် ရယူလေ့ရှိသော မြေအသုံးချမှု ပရီမီယံ (Land Use Premium) ကို ရယူထားခြင်း မတွေ့ရပါကြောင်း၊ ပြည်ထောင်စုအစိုးရအဖွဲ့၏ (၃၀-၉-၂၀၁၁) ရက်စွဲပါ အမိန့်ကြော်ငြာစာ အမှတ်၊ ၃၉/၂၀၁၁၏ အပိုဒ် ၁၇ အရ မြေငှားခ ပရီမီယံကြေးကို သက်ဆိုင်ရာဌာနက မြေငှားသူထံမှ တောင်းခံရန် ညွှန်ကြားထားသည်ကို သိရှိလိုက်နာရန် ဖော်ပြအပ်ပါကြောင်း။

၁၀။ လုပ်ငန်းမှ ထွက်ရှိသော ကြက်၊ ဘဲ၊ တိရစ္ဆာန်၊ ပုစွန် နှင့် ငါးအစာများကို ပြည်တွင်း ၈၀ % နှင့် ပြည်ပ ၂၀ % ရောင်းချမည် ဖြစ်ပြီး နှစ်စဉ် ထုတ်လုပ်မှုနှင့် ပြည်တွင်း/ ပြည်ပ ရောင်းဈေးနှုန်းများမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | ထုတ်လုပ်မှု (MT) | ပြည်တွင်း ရောင်းဈေးနှုန်း (ကျပ် ထောင်ပေါင်း) | ပြည်ပ ရောင်းဈေးနှုန်း (US$) | ဝင်ငွေ | |
|---|---|---|---|---|---|
| | | | | ကျပ် (ထောင်ပေါင်း) | US$ (ထောင်ပေါင်း) |
| **Poultry Feed** | | | | | |
| Boiler Feed | ၄၀,၀၀၀ | ၄၅၅.၀၀ | ၆၃၅.၀၀ | ၁၄,၅၆၀.၀၀ | ၅,၀၈၀.၀၀ |
| Layer Feed | ၂၀,၀၀၀ | ၄၅၀.၀၀ | ၆၂၀.၀၀ | ၇,၂၀၀.၀၀ | ၂,၄၈၀.၀၀ |
| Duck Feed | ၁,၄၀၀ | ၄၈၀.၀၀ | ၅၆၀.၀၀ | ၅၃၇.၆၀ | ၁၅၇.၀၀ |
| **Animal Feed** | | | | | |
| Swine Feed | ၁,၈၀၀ | ၅၂၀.၀၀ | ၆၈၅.၀၀ | ၇၄၈.၈၀ | ၂၄၇.၀၀ |
| Cattle & Dairy Feed | ၁,၀၀၀ | ၅၂၀.၀၀ | ၆၅၀.၀၀ | ၄၁၆.၀၀ | ၁၃၀.၀၀ |
| **Shrimp Feed** | ၈၀၀ | ၇၃၀.၀၀ | ၈၈၀.၀၀ | ၄၆၇.၂၀ | ၁၄၁.၀၀ |
| **Fish Feed** | ၁၀,၀၀၀ | ၄၅၀.၀၀ | ၄၉၅.၀၀ | ၃,၆၀၀.၀၀ | ၉၉၀.၀၀ |
| **စုစုပေါင်း** | | | | ၂၇,၅၂၉.၆၀ | ၉,၂၂၄.၀၀ |

၁၁။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ်(၅နှစ် မြောက်)တွင် ရရှိမည့် ကုမ္ပဏီ၏ ဝင်ငွေနှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | | US$ (သန်း) |
|---|---|---|
| (က) | ဝင်ငွေ | ၄၃.၆၃ |
| (ခ) | အသုံးစရိတ် | ၄၁.၀၁ |
| (ဂ) | အသားတင်အမြတ် | ၂.၆၈ |

၁၂။ လုပ်ငန်း၏ အရင်းကြေကာလမှာ (၄)နှစ်နှင့် (၆)လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း IRR မှာ ၂၄% ဖြစ်ပါသည်။

~~၁၃။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ်တွင် ရရှိမည့် အကျိုးအမြတ်~~ ခန့်မှန်းခြေမှာ ဝင်ငွေခွန် US$ (၀.၈၉)သန်းနှင့် ကုန်သွယ်လုပ်ငန်းခွန်မှာ ကျပ် (၁.၃၈) သန်း ဖြစ်ပါသည်။

၁၄။ လုပ်ငန်း ဆောင်ရွက်ရန်အတွက် ပြည်တွင်းမှ ဝန်ထမ်း (၂၀၆)ဦးနှင့် ပြည်ပမှ (၈)ဦး စုစုပေါင်း (၂၁၄)ဦး ခန့်ထားမည် ဖြစ်ပါသည်။ အဆိုပါ ဝန်ထမ်းများ၏ လုပ်ခ လစာ တစ်နှစ် ရငွေ ကျပ် တစ်ဆယ့်လေးသိန်း လေးသောင်းထက် ကျော်လွန်ပါက ဝင်ငွေခွန် ထမ်းဆောင်မည်ဖြစ်ကြောင်း ဝန်ခံကတိပြုစာကို တင်ပြထားပါသည်။ ပတ်ဝန်းကျင် ကာကွယ်ရေး စီမံချက်နှင့် ထုတ်ကုန်များ၏ အရည်အသွေး အာမခံချက်များ၊ စက်ရုံ ဝန်ထမ်းများ သက်သာ ချောင်ချိရေးနှင့် လုပ်ငန်းခွင် သာယာရေးအတွက် စီစဥ် ဆောင်ရွက်ထားမှုနှင့် မီးဘေး ကြိုတင်ကာကွယ်ရေး စီမံချက်တို့ကို တင်ပြထားပါသည်။

၁၅။ ကုမ္ပဏီ၏ ငွေရေးကြေးရေး အထောက်အထားအဖြစ် Singapore နိုင်ငံ၊ UOB Bank တွင် မိခင် ကုမ္ပဏီဖြစ်သည့် New Hope Singapore Pte., Ltd. အမည်ဖြင့် စာရင်းဖွင့်လှစ်ထားသည့် (၃၁-၁-၂၀၁၂) နေ့ရှိ အမေရိကန် ဒေါ်လာ ၂,၂၃၁,၈၆၄.၀၁ ဘဏ်စာရင်းနှင့် မြန်မာနိုင်ငံ မြန်မာ့ရင်းနှီးမြှုပ်နှံမှုနှင့် ကူးသန်းရောင်းဝယ်ရေးဘဏ်တွင် Myanmar New Hope Farms Co., Ltd. အမည်ဖြင့် စာရင်းဖွင့်လှစ်ထားသည့် (၂၈-၉-၂၀၁၂) ရက်နေ့ရှိ အမေရိကန် ဒေါ်လာ ၇၅,၀၀၀ စာရင်းကို တင်ပြ ထားပါသည်။

၁၆။ မိခင် ကုမ္ပဏီဖြစ်သည့် New Hope Singapore Pte Ltd. ၏ Business Profile နှင့် Singapore နိုင်ငံ၊ မြန်မာသံရုံးမှ ထောက်ခံချက်များကို တင်ပြထားပါသည်။(၁၀-၈-၂၀၁၂)နေ့စွဲဖြင့် မြန်မာနိုင်ငံတွင် Myanmar New Hope Farms Co., Ltd. ဖွဲ့စည်းပြီး ဖြစ်ပါသည်။

၁၇။ နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၂၁ ပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုပါရန် တင်ပြထားပါသည်။

၁၈။ **စိစစ်တင်ပြချက်**

(က) ပဲခူးတိုင်း ဒေသကြီး ဥပဒေချုပ်ရုံးမှ မြေငှားစာချုပ် (မူကြမ်း)အား (၂၄-၇-၂၀၁၂) ရက်နေ့တွင် ပြည်ထောင်စုရှေ့နေချုပ်ရုံးသို့ ပေးပို့၍ သဘောထား တောင်းခံခဲ့ပါသည်။ ထိုသို့ သဘောထား တောင်းခံထားစဥ်အတွင်း (၃၀-၇-၂၀၁၂)ရက်နေ့တွင် မြေငှား စာချုပ်ကို လက်မှတ်ရေးထိုးခဲ့ကြောင်း စိစစ်တင်ပြအပ်ပါသည်။

(ခ) ပြည်ထောင်စုရှေ့နေချုပ်ရုံးမှ စာချုပ်တွင် ပြင်ဆင်ရန် အချက်များ ဖော်ပြလျှက် သဘောထားမှတ်ချက် ပြန်ကြားလာသည့်အခါ (၃၀-၇-၂၀၁၂) ရက်နေ့တွင် ချုပ်ဆိုခဲ့သော စာချုပ်မှာပင် ပြင်ဆင်ခဲ့ကြောင်း စိစစ်တင်ပြအပ်ပါသည်။

(ဂ) ပြင်ဆင်တင်ပြလာသည့်စာချုပ်တွင် ရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်အရ မြေအသုံးချမှု ပရီမီယံ (Land Use Premium) နှင့် ပတ်သက်၍ ဖော်ပြထားခြင်း မရှိကြောင်း စိစစ်တင်ပြအပ်ပါသည်။

၁၉။ သို့ပါ၍ Myanmar New Hope Farms Co., Ltd. တည်ထောင်၍ ပဲခူးတိုင်း ဒေသကြီး၊ ပဲခူး မြို့နယ်၊ ညောင်အင်းရွာ၊ တိုက်ကြီး-ပဲခူး အဝေးပြေးလမ်းမ၊ စက်မှုဇုန် ဧရိယာ၊ အကွက် အမှတ် (၃၃) ရှိ မြေ (၅.၇၉) ဧက (၂၃,၄၁၁.၅၆ စတုရန်းကီလိုမီတာ) ငှားရမ်းကာ ရာနှုန်းပြည့် နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုအဖြစ် တိရိစ္ဆာန် အစာစပ်စက်ရုံ တည်ဆောက်ပြီး ကြက်၊ ဘဲ၊ တိရစ္ဆာန်၊ ပုစွန် နှင့် ငါးအစာများ ထုတ်လုပ် ပြုပြင် ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်းကို နိုင်ငံခြား ရင်းနှီး မြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် လမ်းညွှန်မှု ခံယူအပ် ပါသည်။

အတွင်းရေးမှူး(ကိုယ်စား)

( အောင်နိုင်ဦး၊ ညွှန်ကြားရေးမှူးချုပ် )

# ကုမ္ပဏီဒါရိုက်တာနှင့်အစုရှင်များ၏နေရပ်လိပ်စာစာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/အစုရှင်များ၏အမည် | ဒါရိုက်တာ/အစုရှင်များ၏ ဆက်သွယ်ရန်လိပ်စာ |
|---|---|---|---|
| ၁။ | Myanmar New Hope Farms Company Limited | (၁) Mr. Liu Chang<br>Chairman<br>Chinese<br>G 50914811 | 10 Anson Road, #33-04A, International Plaza, Singapore 079903. |
| | | (၂) Mr. Du Jiangping<br>Managing Director<br>Chinese<br>P 00761321 | # 376, Jishi Road, Jingjiang Industrial Park, Chengdu, Sichuan, P.R China |
| | | (၃) Mr. Deng Xiaohua<br>Director<br>Chinese<br>G 48112592 | # 376, Jishi Road, Jingjiang Industrial Park, Chengdu, Sichuan, P.R China |
| | | (၄) Mr. Li Pingwen<br>Executive Director<br>Chinese<br>G 41935811 | # 376, Jishi Road, Jingjiang Industrial Park, Chengdu, Sichuan, P.R China |

၁။ ဆက်သွယ်ရမည့်တယ်လီဖုန်းနံပါတ်၊ ဖက်စ်နံပါတ် - 

၂။ ဆက်သွယ်ရမည့် လိပ်စာအပြည့်အစုံ - 10 Anson Road, #33-04A, International Plaza, Singapore 079903.

၃။ ဆက်သွယ်ရမည့်ပုဂ္ဂိုလ်အမည်၊ရာထူး - Mr. Liu Chang Chairman

၄။ ကုမ္ပဏီအနေဖြင့်ဆောင်ရွက်သည့်လုပ်ငန်းများ - ကြက်၊ ဘဲ၊ တိရစ္ဆာန်၊ ပုစွန် နှင့် ငါးအစာများ ထုတ်လုပ် ပြုပြင် ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်း

၅။ ကုမ္ပဏီမှတ်ပုံတင်အမှတ်/နေ့စွဲ -

၆။ ကုမ္ပဏီမှတ်ပုံတင် သက်တမ်းကုန်ဆုံးသည့်နေ့စွဲ -

၇။ ဘဏ်အမည်နှင့်ဘဏ်စာရင်းအမှတ် -

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
တိုင်းဒေသကြီးအစိုးရအဖွဲ့
ပဲခူးတိုင်းဒေသကြီး

စာအမှတ်၊ ၁ / ၅ - ၂ / ဦး ၅
ရက်စွဲ၊ ၂၀၁၂ ခုနှစ်၊ ဩဂုတ်လ ၅ ရက်

M.1044
519

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်

အကြောင်းအရာ။ **Myanmar New Hope Farms Co., Ltd မှ တိရိစ္ဆာန်အစာစပ်စက်ရုံ လာရောက်ရင်းနှီးမြှုပ်နှံမည့်ကိစ္စ**

ရည်ညွှန်းချက် ။ (၁) ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့၏ (၃၁. ၇. ၂၀၁၂)ရက်စွဲပါစာအမှတ်၊ ၁/ ၅ - ၂ / ဦး ၅

(၂) မွေးမြူရေးနှင့် ရေလုပ်ငန်းဝန်ကြီးဌာန၊ ဝန်ကြီးရုံး၏ (၈. ၈. ၂၀၁၂)ရက်စွဲပါ စာအမှတ်၊ ၁ / ၂၀၀ (ည)/ နပတ/ ၃၀၁၀/ ၁၁၉၄

၁။ ပဲခူးတိုင်းဒေသကြီးအတွင်း Myanmar New Hope Farms Co., Ltd မှ တိရိစ္ဆာန် အစာစပ်စက်ရုံ လာရောက်ရင်းနှီးမြှုပ်နှံမှုအပေါ် မွေးမြူရေးနှင့် ရေလုပ်ငန်းဝန်ကြီးဌာန၏ သဘောထားမှတ်ချက်အား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ ပေးပို့နိုင်ပါရန် ရည်ညွှန်း(၁)ပါ စာဖြင့် အကြောင်းကြားလာမှုနှင့်ပတ်သက်၍ မွေးမြူရေးနှင့် ရေလုပ်ငန်းဝန်ကြီးဌာနမှ ရည်ညွှန်း(၂)ပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ သို့ဖြစ်ပါ၍ Myanmar New Hope Farms Co., Ltd မှ တိရိစ္ဆာန်အစာစပ်စက်ရုံ လာရောက်ရင်းနှီးမြှုပ်နှံမှုအပေါ် မွေးမြူရေးနှင့် ရေလုပ်ငန်းဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန်မရှိပါကြောင်း ပြန်ကြားလာမှုအား သိရှိနိုင်ပါရန် တင်ပြအပ်ပါသည်။

ဝန်ကြီးချုပ်(ကိုယ်စား)
ဦးမောင်မောင်သန်း၊ အတွင်းရေးမှူး

**မိတ္တူကို**

မျှောစာတွဲ
လက်ခံစာတွဲ

Call(15)

M-692
16.8.12

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
## မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာန
## ဝန်ကြီးရုံး

စာအမှတ်၊ ၁/၂၀၀ (ည)/ ၃၀၁၀/[illegible]၂၄၆

ရက်စွဲ၊၂၀၁၂ခုနှစ်၊ဩဂုတ်လ ၁၄ ရက်

အကြောင်းအရာ။ Myanmar New Hope Farms Company Limited မှ တိရစ္ဆာန်အစာစပ်စက်ရုံတည်ဆောက်ကာငါး၊ပုစွန် နှင့် တိရစ္ဆာန်အစာများ ထုတ်လုပ်ခြင်း၊ ဖြန့်ဖြူးခြင်း လုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြခြင်းကိစ္စ

ရည် ညွှန်း ချက် ။ (၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၉-၈-၂၀၁၂ ရက်စွဲပါစာအမှတ်၊ ရက-၇(ခ)/န-၆၉၄/၂၀၁၂ (၁၀၃၀၉)

(၂) မွေးမြူရေးအစားအစာနှင့်နို့ထွက်ပစ္စည်းလုပ်ငန်း၏ ၁၀-၈-၂၀၁၂ ရက်စွဲပါစာအမှတ်၊ ညကမ-၇/၄ (၇၅၇/၂၀၁၂)

၁။ Myanmar New Hope Farms Company Limited မှ ပဲခူးတိုင်းဒေသကြီး၊ ပဲခူးမြို့နယ်၊ ညောင်အင်းရွာ၊ တိုက်ကြီး - ပဲခူးအဝေးပြေးလမ်းမ၊ စက်မှုဇုန်ဧရိယာ၊ အကွက်အမှတ်( ၃၃ )ရှိ မြေ ( ၅.၇၉ ) ဧကအား ကနဦးနှစ် ( ၃၀ ) ငှားရမ်းပြီး၊ ရာနှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုအဖြစ် တိရစ္ဆာန်အစာစပ်စက်ရုံ တည်ဆောက်ကာ ငါး၊ ပုစွန် နှင့် တိရစ္ဆာန်အစာများထုတ်လုပ်ခြင်း၊ ဖြန့်ဖြူးခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် ကုမ္ပဏီ၏ တင်ပြချက်အပေါ်၊မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာန၏သဘောထားမှတ်ချက်ပြန်ကြားပေးရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းချက် ( ၁ ) ပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ Myanmar New Hope Farms Company Limited မှ လုပ်ငန်းအဆိုပြုချက်နှင့် စပ်လျဉ်း၍ အောက်ပါအတိုင်းတင်ပြအပ်ပါသည်-

| | | | |
|---|---|---|---|
| (က) | အဆိုပြုသည့်ကုမ္ပဏီအမည် | - | Myanmar New Hope Farms Company Limited |
| (ခ) | ဆောင်ရွက်မည့်လုပ်ငန်း | - | တိရစ္ဆာန်အစာစပ်စက်ရုံ တည်ဆောက်ကာငါး၊ပုစွန်နှင့် တိရစ္ဆာန်အစာများ ထုတ်လုပ်ခြင်း၊ ဖြန့်ဖြူးခြင်း။ |
| (ဂ) | လုပ်ငန်းတည်နေရာ | - | အကွက်အမှတ် ( ၃၃ )၊ စက်မှုဇုန်ဧရိယာ၊ တိုက်ကြီး-ပဲခူး အဝေးပြေးလမ်းမ၊ ညောင်အင်းကျေးရွာ၊မြေ(၅.၇၉)ဧက |
| (ဃ) | ရင်းနှီးမြှုပ်နှံမှုပမာဏ | - | အမေရိကန်ဒေါ်လာ (၅.၃၉၀)သန်း |
| (င) | ရင်းနှီးမြှုပ်နှံမှုကာလ | - | အနှစ်(၃၀) |

(စ) အဆောက်အဦဆောက်လုပ်မည့်- (၁၂)လ
ကာလ

(ဆ) အရင်းကြေကာလ - (၄)နှစ်(၉)လ

၃။ Myanmar New Hope Farms Company Limited မှ အစာစပ်စက်ရုံ စက်ရုံလုပ်ငန်းဆောင်ရွက်ရန်ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့၏ထောက်ခံချက်ပါရှိပါသည်။ ကုမ္ပဏီမှ စက်ရုံဆောက်လုပ်မည့် မြေနေရာသည် ပဲခူးတိုင်းဒေသကြီး အစိုးရအဖွဲ့ မြေနေရာဖြစ်သဖြင့် ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့ နှင့် မြေငှားရမ်းခြင်း သဘောတူစာချုပ် ချုပ်ဆိုပြီးဖြစ်ပါသည်။ မြေငှားရမ်းခြင်း သဘောတူစာချုပ်အား နောက်ဆက်တွဲ(က)ဖြင့် ဖော်ပြအပ်ပါသည်။

၄။ ကုမ္ပဏီသည် အဆိုပြုလုပ်ငန်းကို ရင်းနှီးငွေပမာဏ အမေရိကန်ဒေါ်လာ (၅.၃၉၀ )သန်း နှင့်ညီမျှသော မြန်မာငွေကျပ် (၄၃၁၂)သန်း ထည့်ဝင်ဆောင်ရွက်မည်ဖြစ်ပြီး၊ စက်ရုံမှ ထွက်ရှိသည့် ကုန်ချောများကိုပြည်တွင်း၌ ( ၈၀% )နှင့် ပြည်ပသို့ ( ၂၀% ) တင်ပို့ရောင်းချမည်ဖြစ်ပါသည်။ စက်ရုံတွင် တပ်ဆင်မည့် စက်ပစ္စည်းကိရိယာများကို အမေရိကန်ဒေါ်လာ ( ၁.၀၇၃ ) သန်းဖိုး ပြည်ပမှတင်သွင်းပြီး၊ ကျပ် ( ၁၃၀.၄၀ ) သန်းဖိုး ပြည်တွင်းမှ ဝယ်ယူမည်ဖြစ်ပါသည်။

၅။ Myanmar New Hope Farms Company Limited ၏ ငွေကြေးခိုင်မာမှု အထောက်အထား၊ သင်းဖွဲ့မှတ်တမ်း/သင်းဖွဲ့ စည်းမျဉ်း၊ စက်ရုံတည်နေရာပြ မြေပုံတို့အား နောက်ဆက်တွဲ (ခ)ဖြင့်တင်ပြအပ်ပါသည်။

၆။ အဆိုပြုလုပ်ငန်းဆောင်ရွက်မည့်မြေနေရာမှာပဲခူးစက်မှုဇုန်မြေနေရာဖြစ်၍၊ စက်ရုံဆောက် လုပ်ရန်သင့်လျော်မှုရှိပြီး၊ ပတ်ဝန်းကျင်ညစ်ညမ်းမှု မဖြစ်ပေါ်စေရန် Environment Protection Plan နှင့်ပတ်သက်၍ Wast Water Treatment တပ်ဆင်အသုံးပြုမည်ဟု ဖော်ပြထားပြီး မိဘေးကြိုတင်ကာကွယ်ဆောင်ရွက်ထားရှိမည့် အစီအမံများကိုစီစစ်တွေ့ရှိရပါသည်။

၇။ Myanmar New Hope Farms Company Limited ၏ အစာစပ် စက်ရုံ လုပ်ငန်းတည်ထောင်ဆောင်ရွက်ခြင်းဖြင့် အောက်ပါအကျိုးကျေးဇူးများကို ရရှိနိုင်မည် ဖြစ်ပါသည်-

(က) ဒေသဖွံ့ဖြိုးရေးနှင့် ဒေသခံပြည်သူများအတွက် အလုပ်အကိုင်အခွင့်အလမ်းများ ရရှိမည်ပြီး၊ ခေတ်မီနည်းပညာများတိုးပွား ရရှိစေမည်ဖြစ်ပါသည်။

(ခ) တိရစ္ဆာန်အစာစပ်စက်ရုံ တည်ဆောက်ခြင်းဖြင့် ပဲခူးတိုင်းဒေသကြီး အတွင်းတွင် မွေးမြူရေးနှင့်ရေလုပ်ငန်းများကို အထောက်အကူပြုနိုင်မည်ဖြစ်ပါသည်။

(ဂ) နိုင်ငံတော်အနေဖြင့် မြေငှားရမ်းခရရှိခြင်းဖြင့် နိုင်ငံတော်အတွက်ဝင်ငွေရရှိနိုင်မည် ဖြစ်ပါသည်။

၈။ Myanmar New Hope Farms Company Limited မှ တိရစ္ဆာန်အစာစပ်စက်ရုံတည်ဆောက်ကာ ငါး၊ပုစွန် နှင့် တိရစ္ဆာန်အစာများထုတ်လုပ်ခြင်း၊ ဖြန့်ဖြူးခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုရန် အဆိုပြုတင်ပြလာခြင်းကို မွေးမြူရေး၊အစားအစာနှင့်နို့ထွက်ပစ္စည်းလုပ်ငန်းမှလည်း ကန့်ကွက်ရန်မရှိကြောင်း သဘောထားမှတ်ချက်ပြန်ကြားထားပါသည်။

၉။ သို့ဖြစ်ပါ၍ Myanmar New Hope Farms Company Limited မှ တိရစ္ဆာန်အစာစပ်စက်ရုံတည်ဆောက်ကာ ငါး၊ပုစွန် နှင့် တိရစ္ဆာန်အစာများထုတ်လုပ်ခြင်း၊ ဖြန့်ဖြူးခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုရန် အဆိုပြုတင်ပြချက်အပေါ် မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာနမှ ကန့်ကွက်ရန်မရှိပါကြောင်း တင်ပြအပ်ပါသည်။

ခင်ဗျိုး:မြင့်
၁၄/၈/၁၂
အုန်းမြင့်
ပြည်ထောင်စုဝန်ကြီး

<u>မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်</u>

မိတ္တူ- (၁) ရုံးအဖွဲ့မှူး၊မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာန

(၂) Myanmar New Hope Farms Company Limited

(၃) ရုံးလက်ခံ

(၄) မျှော

M.1681
12-10-12

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ပြည်ထောင်စုဝန်ကြီးရုံး

စာအမှတ် ၂/၂၃၀(ခ)(၃)/( ၅၁၇၅ /၂၀၁၂)
ရက်စွဲ ၂၀၁၂ခုနှစ်၊အောက်တိုဘာလ ၁၁ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ Myanmar New Hope Farms Co., Ltd. တည်ထောင်၍ တိရစ္ဆာန်အစာစပ် စက်ရုံတည်ဆောက်ကာ ကြက်၊ဘဲ၊ပုစွန်၊ငါးနှင့်တိရစ္ဆာန်အစာများ ထုတ်လုပ်ခြင်း၊ ပြုပြင်ခြင်း၊ ရောင်းချခြင်း လုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြလာခြင်းကိစ္စ

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် ၏ ၃-၁၀-၂၀၁၂ ရက်စွဲပါ စာအမှတ်၊ ရက- ၇(ခ)/န-၇၂၈/၂၀၁၂(၁၁၄၈၂)

၁။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ Myanmar New Hope Farms Company Limited သို့ပဲခူးတိုင်းဒေသကြီး၊ပဲခူးမြို့နယ်၊ညောင်အင်းရွာ၊တိုက်ကြီး-ပဲခူးအဝေးပြေးကားလမ်းမ စက်မှုဇုန်ဧရိယာ၊အကွက်အမှတ်(၃၃)ရှိမြေ(၅.၇၉)ဧကအားကနဦးနှစ်(၃၀)ငှားရမ်းပြီး၊ရာနှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုအဖြစ်တိရစ္ဆာန်အစာများထုတ်လုပ်ခြင်း၊ပြုပြင်ခြင်း၊ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန်ကိစ္စနှင့်ပတ်သက်၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီး ဌာန ၏ သဘောထားမှတ်ချက်ကိုပြန်ကြား အပ်ပါသည်။

၂။ ပေးပို့လာသည့်အဆိုပြုလွှာအားစိစစ်ရာတွင်သုံးစွဲမည့်စက်ပစ္စည်းစာရင်း၊ အဆောက် အအုံ အနေအထား၊ ပရိဘောဂစာရင်း၊ ထုတ်လုပ်မှုနှင့် ဝင်ငွေ၊အရှုံးအမြတ်ငွေစီးဆင်းမှုစာရင်း၊ဝန်ထမ်း အင်အားနှင့်လစာစာရင်း၊ကုန်ကြမ်းစာရင်း၊မီးငြိမ်းသတ်ရေးစီမံချက်၊ပတ်ဝန်းကျင်ကာကွယ်ရေး စီမံချက်၊ထုတ်ကုန်အရည်အသွေးကိုအာမခံချက်၊ဝင်ငွေခွန်နှင့်ပတ်သက်သည့်ဝန်ခံချက်၊ပဲခူးတိုင်း ဒေသကြီးအစိုးရအဖွဲ့၏ ထောက်ခံတင်ပြချက်၊မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာန၏ ထောက်ခံ ချက်၊မြေငှားစာချုပ်နှင့်ပဲခူးတိုင်းဒေသကြီးဥပဒေချုပ်ရုံးမှပြည်ထောင်စုရှေ့နေချုပ်ရုံးသို့တင်ပြစာ၊ လုပ်ငန်းနှင့်ဘဏ္ဍာရေးဆိုင်ရာတင်ပြချက်နှင့်သင်းဖွဲ့မှတ်တမ်းများပါရှိကြောင်းစိစစ်တွေ့ရှိရပါသည်။

၃။ ပတ်ဝန်းကျင်ကာကွယ်ရေးစီမံချက်နှင့်ပတ်သက်၍ ရေဆိုးသန့်စင်စက်အသုံးပြုရန်၊ ဆူညံသံများကို အသံမထွက်အောင်ဖုံးသည့်ကိရိယာဖြင့် ထိန်းချုပ်ရန်နှင့်ဖုန်ဒဏ်သက်သာစေရန်အတွက် ဖုန်ဖမ်းစက်များ၊ဖုန်ဖမ်းသောပိုင်များဖြင့်ကာထားရန်၊လေအိတ်-ဖုန်စုပ်စက်သုံးစွဲရန်နှင့် ပတ်ဝန်းကျင်စိမ်းလန်းစိုပြည်ရေးအပင်များစိုက်ခြင်း၊ချုံပုတ်များ၊စားကျက်များကို အဆင့်ဆင့်စိုက်ပျိုးခြင်းများ ဆောင်ရွက်ရန် အစီအစဉ်များကို ယေဘူယျအားဖြင့် ဖော်ပြထားသည်ကိုတွေ့ ရှိရပါသည်။

၄။ သို့ဖြစ်ပါ၍ Myanmar New Hope Farms Company Limited တိရစ္ဆာန် အစာစပ်စက်ရုံတည်ဆောက်ကာကြက်၊ဘဲ၊ ပုစွန်၊ ငါးနှင့်တိရစ္ဆာန်အစာများ ထုတ်လုပ်ခြင်း၊ ပြုပြင်ခြင်း၊ ရောင်းချခြင်းလုပ်ငန်းဆောင်ရွက်ခြင်းကြောင့်ဖြစ်ပေါ်လာနိုင်သည့်ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုများကိုရှောင်ရှားနိုင်ရန်အတွက်လုပ်ငန်းလည်ပတ်ခြင်းနှင့်ထုတ်လုပ်ခြင်းအဆင့်ဆင့်တို့၏စီမံကိန်းဆိုင်ရာ အချက်အလက်များ ပြည့်စုံစွာဖော်ပြပြီး၊ ပတ်ဝန်းကျင်ထိခိုက်ပျက်စီးမှု အနည်းဆုံး ဖြစ်စေရန် ဆောင်ရွက်နိုင်မည့်အစီအစဉ်များကိုထည့်သွင်းဆောင်ရွက်သွားနိုင်ရေးအတွက်ပတ်ဝန်းကျင် ထိခိုက်ပျက်စီးမှု ရှိ - မရှိ ကို ကနဦး ပတ်ဝန်းကျင် စစ်ဆေးမှု ( Initial Environmental Examination – IEE ) ဖြင့် ကြိုတင် လေ့လာ ဆန်းစစ်ပြီး ၊ အဆိုပါ စစ်ဆေးချက် နှင့် အညီ ပတ်ဝန်းကျင် စီမံခန့်ခွဲမှုဆိုင်ရာစီမံချက် (Environmental Management Plan) ရေးဆွဲ တင်ပြ၍ စီမံချက်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်သွားရန် နှင့် ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဥပဒေပါပြဋ္ဌာန်းချက်များကိုလိုက်နာဆောင်ရွက်ရန်လိုအပ်ပါကြောင်းသဘောထားမှတ်ချက်ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး (ကိုယ်စား)
( မျိုး ဝင်း ၊ ရုံး အဖွဲ့ မှူး )

မိတ္တူ - ညွှန်ကြားရေးမှူးချုပ်
ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
- ညွှန်ကြားရေးမှူးချုပ်
ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

ပြည်ထောင်စုရှေ့နေချုပ်ရုံး

နေပြည်တော်

စာအမှတ်၊ ၂ (၅) ၃ - ၈၇ / နပတ( ၄၀၀ )

ရက်စွဲ ၊ ၂၀၁၂ ခုနှစ်၊ စက်တင်ဘာလ ၁၁ ရက်

အကြောင်းအရာ။ ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့နှင့် New Hope Singapore Ltd. တို့ ချုပ်ဆိုမည့် Land Lease Agreement (မူကြမ်း)အပေါ် သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ

ရည်ညွှန်းချက်။ ပဲခူးတိုင်းဒေသကြီးဥပဒေချုပ်ရုံး၏ ၂၄-၇-၂၀၁၂ ရက်စွဲပါ စာအမှတ်၊ ၇/ ခ/(၃)၁/ ၄( ၁၂၇၉ )

၁။ ပဲခူးတိုင်းဒေသကြီး၊ စက်မှုနယ်မြေရှိ မြေ(၅)ဧကအား ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့ (Lessor) မှ New Hope Singapore Ltd. (Lessee) သို့ တိရစ္ဆာန်အစားအစာစက်ရုံ ဆောက်လုပ်ရန်အတွက် ငှားရမ်းမည့် Land Lease Agreement (မူကြမ်း) အား ဥပဒေနှင့်အညီ ပြည့်စုံစွာဆောင်ရွက်နိုင်ရေးအတွက် စိစစ်လမ်းညွှန်မှုပြုနိုင်ပါရန် ပဲခူးတိုင်းဒေသကြီး ဥပဒေချုပ်ရုံးမှ ရည်ညွှန်းချက်ပါစာဖြင့် တင်ပြလာသောကိစ္စဖြစ်ပါသည်။

၂။ ရည်ညွှန်းချက်ပါစာနှင့် ယင်းစာနှင့်အတူ ပူးတွဲပေးပို့လာသော Land Lease Agreement (မူကြမ်း)ကို ဥပဒေရှုထောင့်မှလေ့လာစိစစ်ပြီး အောက်ပါအတိုင်း သုံးသပ်အကြံပြုပါသည်-

(က) မြေငှားရမ်းမည့်ကုမ္ပဏီအမည်နှင့်စပ်လျဉ်း၍ ရည်ညွှန်းစာတွင် New Hope Singapore Ltd. ဟု ဖော်ပြထားပြီး စာချုပ်(မူကြမ်း) စာချုပ်ဝင်

များအပိုဒ်တွင် Myanmar New Hope Farms Co., Ltd ဟု ဖော်ပြထားပါသည်။ သို့ဖြစ်ပါ၍ စာချုပ်ဝင်အမည်နှင့်စပ်လျဉ်း၍ ရှင်းလင်းမှုရှိစေရန် ပြန်လည်စိစစ်သင့်ပါသည်၊

(ခ) စာချုပ်(မူကြမ်း)တွင် ကွက်လပ်များပါရှိနေကြောင်းတွေ့ရှိရပါသည်။ စာချုပ်ချုပ်ဆိုချိန်၌ အဆိုပါ ကွက်လပ်များဖြည့်စွက်ပြီးဖြစ် ရန်လိုအပ်မည်ဖြစ်ပါသည်၊

(ဂ) စာချုပ်(မူကြမ်း) WHEREAS ပထမပိုဒ်နှင့် အပိုဒ်ခွဲ 1.01 တို့တွင် ရည်ညွှန်းထားသော နောက်ဆက်တွဲ Appendix A မြေပုံမှာ စာချုပ်(မူကြမ်း)တွင်ပူးတွဲပါရှိလာခြင်းမရှိပါ။ နောက်ဆက်တွဲများသည် စာချုပ်၏တစ်စိတ်တစ်ဒေသဖြစ်သဖြင့် နောက်ဆက်တွဲပါဖော်ပြချက် သည် စာချုပ်ပါစည်းကမ်းချက်များနှင့် ညီညွတ်မှုရှိစေရန် ဌာနမှစိစစ်ရန်လိုအပ်ပါသည်။ ယခုချုပ်ဆိုမည့်စာချုပ်မှာ မြေငှားရမ်းခြင်းစာချုပ်ဖြစ်၍ ငှားရမ်းမည့်မြေအတွက်မြေပုံမှာ အရေးကြီးသဖြင့် စာချုပ်လက်မှတ်ရေးထိုးချိန်တွင် ပူးတွဲပါရှိရန်လိုအပ်ပါသည်။ ထို့ပြင် အဆိုပါ နောက်ဆက်တွဲမြေပုံသည် သက်ဆိုင်ရာကြေးတိုင်နှင့် မြေစာရင်းဦးစီးဌာနမှရေးဆွဲထားသော မြေပုံဖြစ်ရန်လည်း လိုအပ်ပါသည်၊

(ဃ) စာချုပ်(မူကြမ်း) အပိုဒ် IV Effective Date of the Lease အပိုဒ်ခွဲ 4.02 တွင် မြေငှားကာလနှင့် စပ်လျဉ်း၍ဖော်ပြချက်မှာ အပိုဒ်ခွဲ 1.01 တွင် ဖော်ပြထားပြီးဖြစ်၍ ပယ်ဖျက်သင့်ပါသည်၊

<u>လျှို့ဝှက်</u>

ပါ သည်။ သို့ရာတွင် ရည်ညွှန်းစာနှင့်အတူ အဆိုပါစာချုပ်ပါရှိလာခြင်း မရှိသဖြင့် ဌာနမှ ပြန်လည်စိစစ်ရန်ဖြစ် ပါသည်၊

(ဈ) စာချုပ်(မူကြမ်း)ပါ စာချုပ်ဝင်အမည် Lessee နေရာတွင် လက်မှတ်ရေးထိုးသူ နှင့် သက်သေနေရာရှိအမည်များမှာ Mr. Li Pingwen တစ်ဦးတည်းဖြစ်နေခြင်း၊ အပိုဒ် XIX Notice နှင့် လက်မှတ်ရေးထိုးသူနေရာများ၌ လိပ်စာ များမပါရှိခြင်းတို့အတွက် ပြန်လည်စိစစ်ရန်ဖြစ်ပါသည်၊

(ည) မြေငှားစာချုပ်များတွင်ရယူလေ့ရှိသော မြေအသုံးချမှုပရီမီယံ (Land Use Premiums) ကို ရယူထားခြင်းမတွေ့ရပါ။ ပြည်ထောင်စုအစိုးရအဖွဲ့၏ ၃၀-၉-၂၀၁၁ ရက်စွဲပါအမိန့်ကြော်ငြာစာအမှတ်၊ ၃၉/ ၂၀၁၁ ၏ အပိုဒ် ၁၇ အရ မြေငှားခပရီမီယံကြေးကို သက်ဆိုင်ရာဌာနက မြေငှားသူထံမှတောင်းခံရန် ညွှန်ကြားထားသည်ကို သိရှိလိုက်နာနိုင်ရန် ဖော်ပြအပ်ပါသည်၊

(ဋ) လိုအပ်သော နေရာအချို့တွင် မင်နီဖြင့် ပြင်ဆင် ဖြည့်စွက်ပေးလိုက်ပါသည်။

၃။ တံဆိပ်ခေါင်းအက်ဥပဒေပုဒ်မ ၉ အရ တံဆိပ်ခေါင်းခွန်ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်မရှိသေးလျှင် မြေငှားစာချုပ်ပေါ်တွင် တံဆိပ်ခေါင်းအက်ဥပဒေအရ ကျသင့်သော တံဆိပ်ခေါင်းခွန်ကို အငှားချထားခြင်းခံရသူက ထမ်းဆောင်ရမည်ဖြစ်ပါသည်။

၄။ ဤ စာချုပ်(မူကြမ်း) ကို ပြည်ထောင်စုရှေ့နေချုပ်ဥပဒေနှင့်အညီ ဥပဒေကြောင်းအရသာ ဥပဒေအကြံဉာဏ် ပေးခြင်းဖြစ်ပါသည်။ ဥပဒေရေးရာမဟုတ်သည့် စီမံရေးရာ၊ ဘဏ္ဍာရေးရာ၊ ကျွမ်းကျင်မှုဆိုင်ရာကိစ္စရပ်များကို ဤရုံးအနေဖြင့် မှတ်ချက်ပေးရန် မရှိပါ

M-၆၇၉
16.8.12

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ**
**မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာန**
**ဝန်ကြီးရုံး**

စာအမှတ်၊ ၁/၂၀၀ (ည)/ ၃၀၁၀/ ၁၂၄၆
ရက်စွဲ၊၂၀၁၂ခုနှစ်၊ဩဂုတ်လ ၁၄ ရက်

**အကြောင်းအရာ။** **Myanmar New Hope Farms Company Limited မှ တိရစ္ဆာန်အစာစပ်စက်ရုံတည်ဆောက်ကာငါး၊ပုစွန် နှင့် တိရစ္ဆာန်အစာများ ထုတ်လုပ်ခြင်း၊ ဖြန့်ဖြူးခြင်း လုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြခြင်းကိစ္စ**

ရည် ညွှန်း ချက် ။ (၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၉-၈-၂၀၁၂ ရက်စွဲပါစာအမှတ်၊ ရက-၇(ခ)/န-၆၉၄/၂၀၁၂ (၁၀၃၀၉)
(၂) မွေးမြူရေးအစားအစာနှင့်ရိက္ခာပစ္စည်းလုပ်ငန်း၏ ၁၀-၈-၂၀၁၂ ရက်စွဲပါစာအမှတ်၊ ညကမ-၇/၄ (၇၅၇/၂၀၁၂)

၁။ Myanmar New Hope Farms Company Limited မှ ပဲခူးတိုင်းဒေသကြီး၊ ပဲခူးမြို့နယ်၊ ညောင်အင်းရွာ၊ တိုက်ကြီး - ပဲခူးအဝေးပြေးလမ်းမ၊ စက်မှုဇုန်ဧရိယာ၊ အကွက်အမှတ်( ၃၃ )ရှိ မြေ ( ၅.၇၉ ) ဧကအား ကနဦးနှစ် ( ၃၀ ) ငှားရမ်းပြီး၊ ရာနှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုအဖြစ် တိရစ္ဆာန်အစာစပ်စက်ရုံ တည်ဆောက်ကာ ငါး၊ ပုစွန် နှင့် တိရစ္ဆာန်အစာများထုတ်လုပ်ခြင်း၊ ဖြန့်ဖြူးခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် ကုမ္ပဏီ၏ တင်ပြချက်အပေါ်၊မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာန၏သဘောထားမှတ်ချက်ပြန်ကြားပေးရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းချက် ( ၁ ) ပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ Myanmar New Hope Farms Company Limited မှ လုပ်ငန်းအဆိုပြုချက်နှင့် စပ်လျဉ်း၍ အောက်ပါအတိုင်းတင်ပြအပ်ပါသည်-

(က) အဆိုပြုသည့်ကုမ္ပဏီအမည် - Myanmar New Hope Farms Company Limited
(ခ) ဆောင်ရွက်မည့်လုပ်ငန်း - တိရစ္ဆာန်အစာစပ်စက်ရုံ တည်ဆောက်ကာငါး၊ပုစွန်နှင့် တိရစ္ဆာန်အစာများ ထုတ်လုပ်ခြင်း၊ ဖြန့်ဖြူးခြင်း။
(ဂ) လုပ်ငန်းတည်နေရာ - အကွက်အမှတ် ( ၃၃ )၊ စက်မှုဇုန်ဧရိယာ၊ တိုက်ကြီး- ပဲခူး အဝေးပြေးလမ်းမ၊ ညောင်အင်းကျေးရွာ၊မြေ(၅.၇၉)ဧက
(ဃ) ရင်းနှီးမြှုပ်နှံမှုပမာဏ - အမေရိကန်ဒေါ်လာ (၅.၃၉၀)သန်း
(င) ရင်းနှီးမြှုပ်နှံမှုကာလ - အနှစ်(၃၀)

(စ) အဆောက်အဦဆောက်လုပ်မည့်- (၁၂)လ
ကာလ
(ဆ) အရင်းကြေကာလ - (၄)နှစ်(၉)လ

၃။ Myanmar New Hope Farms Company Limited မှ အစာစပ်စက်ရုံ စက်ရုံလုပ်ငန်းဆောင်ရွက်ရန်ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့၏ထောက်ခံချက်ပါရှိပါသည်။ ကုမ္ပဏီမှ စက်ရုံဆောက်လုပ်မည့် မြေနေရာသည် ပဲခူးတိုင်းဒေသကြီး အစိုးရအဖွဲ့ မြေနေရာဖြစ်သဖြင့် ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့ နှင့် မြေငှားရမ်းခြင်း သဘောတူစာချုပ် ချုပ်ဆိုပြီးဖြစ်ပါသည်။ မြေငှားရမ်းခြင်း သဘောတူစာချုပ်အား နောက်ဆက်တွဲ(က)ဖြင့် ဖော်ပြအပ်ပါသည်။

၄။ ကုမ္ပဏီသည် အဆိုပြုလုပ်ငန်းကို ရင်းနှီးငွေပမာဏ အမေရိကန်ဒေါ်လာ (၅.၃၉၀ )သန်း နှင့်ညီမျှသော မြန်မာငွေကျပ် (၄၃၁၂)သန်း ထည့်ဝင်ဆောင်ရွက်မည်ဖြစ်ပြီး၊ စက်ရုံမှ ထွက်ရှိသည့် ကုန်ချောများကိုပြည်တွင်း၌ ( ၈၀% )နှင့် ပြည်ပသို့ ( ၂၀% ) တင်ပို့ရောင်းချမည်ဖြစ်ပါသည်။ စက်ရုံတွင် တပ်ဆင်မည့် စက်ပစ္စည်းကိရိယာများကို အမေရိကန်ဒေါ်လာ ( ၁.၀၇၃ ) သန်းဖိုး ပြည်ပမှတင်သွင်းပြီး၊ ကျပ် ( ၁၃၀.၄၀ ) သန်းဖိုး ပြည်တွင်းမှ ဝယ်ယူမည်ဖြစ်ပါသည်။

၅။ Myanmar New Hope Farms Company Limited ၏ ငွေကြေးခိုင်မာမှု အထောက်အထား၊ သင်းဖွဲ့မှတ်တမ်း/သင်းဖွဲ့ စည်းမျဉ်း၊ စက်ရုံတည်နေရာပြ မြေပုံတို့အား နောက်ဆက်တွဲ (ခ)ဖြင့်တင်ပြအပ်ပါသည်။

၆။ အဆိုပြုလုပ်ငန်းဆောင်ရွက်မည့်မြေနေရာမှာပဲခူးစက်မှုဇုန်မြေနေရာဖြစ်၍၊ စက်ရုံဆောက်လုပ်ရန်သင့်လျော်မှုရှိပြီး၊ ပတ်ဝန်းကျင်ညစ်ညမ်းမှု မဖြစ်ပေါ်စေရန် Environment Protection Plan နှင့်ပတ်သက်၍ Wast Water Treatment တပ်ဆင်အသုံးပြုမည်ဟု ဖော်ပြထားပြီး မီဘေးကြိုတင်ကာကွယ်ဆောင်ရွက်ထားရှိမည့် အစီအမံများကိုစီစစ်တွေ့ရှိရပါသည်။

၇။ Myanmar New Hope Farms Company Limited ၏ အစာစပ် စက်ရုံ လုပ်ငန်းတည်ထောင်ဆောင်ရွက်ခြင်းဖြင့် အောက်ပါအကျိုးကျေးဇူးများကို ရရှိနိုင်မည် ဖြစ်ပါသည်-

(က) ဒေသဖွံ့ဖြိုးရေးနှင့် ဒေသခံပြည်သူများအတွက် အလုပ်အကိုင်အခွင့်အလမ်းများ ရရှိမည်ပြီး၊ ခေတ်မီနည်းပညာများတိုးပွား ရရှိစေမည်ဖြစ်ပါသည်။
(ခ) တိရစ္ဆာန်အစာစပ်စက်ရုံ တည်ဆောက်ခြင်းဖြင့် ပဲခူးတိုင်းဒေသကြီး အတွင်းတွင် မွေးမြူရေးနှင့်ရေလုပ်ငန်းများကို အထောက်အကူပြုနိုင်မည်ဖြစ်ပါသည်။
(ဂ) နိုင်ငံတော်အနေဖြင့် မြေငှားရမ်းခရရှိခြင်းဖြင့် နိုင်ငံတော်အတွက်ဝင်ငွေရရှိနိုင်မည် ဖြစ်ပါသည်။

၈။ Myanmar New Hope Farms Company Limited မှ တိရစ္ဆာန်အစာစပ်စက်ရုံတည်ဆောက်ကာ ငါး၊ပုစွန် နှင့် တိရစ္ဆာန်အစာများထုတ်လုပ်ခြင်း၊ ဖြန့်ဖြူးခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုရန် အဆိုပြုတင်ပြလာခြင်းကို မွေးမြူရေး၊အစားအစာနှင့်နို့ထွက်ပစ္စည်းလုပ်ငန်းမှလည်း ကန့်ကွက်ရန်မရှိကြောင်း သဘောထားမှတ်ချက်ပြန်ကြားထားပါသည်။

၉။ သို့ဖြစ်ပါ၍ Myanmar New Hope Farms Company Limited မှ တိရစ္ဆာန်အစာစပ်စက်ရုံတည်ဆောက်ကာ ငါး၊ပုစွန် နှင့် တိရစ္ဆာန်အစာများထုတ်လုပ်ခြင်း၊ ဖြန့်ဖြူးခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုရန် အဆိုပြုတင်ပြချက်အပေါ် မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာနမှ ကန့်ကွက်ရန်မရှိပါကြောင်း တင်ပြအပ်ပါသည်။

(signed) ၁၄/၈/၁၂
အုန်းမြင့်
ပြည်ထောင်စုဝန်ကြီး

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
မိတ္တူ- (၁) ရုံးအဖွဲ့မှူး၊မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာန
(၂) Myanmar New Hope Farms Company Limited
(၃) ရုံးလက်ခံ
(၄) မျှော

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

## ပြည်ထောင်စုရှေ့နေချုပ်ရုံး

## နေပြည်တော်

စာအမှတ်၊ ၂ (၅) ၃ - ၈၇ / နပတ( ၄၀၀ )

ရက်စွဲ ၊၂၀၁၂ ခုနှစ်၊ စက်တင်ဘာလ ၁ ရက်

အကြောင်းအရာ။ **ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့နှင့် New Hope Singapore Ltd. တို့ ချုပ်ဆိုမည့် Land Lease Agreement (မူကြမ်း)အပေါ် သဘောထား မှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည်ညွှန်းချက်။ ပဲခူးတိုင်းဒေသကြီးဥပဒေချုပ်ရုံး၏ ၂၄-၇-၂၀၁၂ ရက်စွဲပါ စာအမှတ်၊ ၇/ ခ/(၃)၁/ ၄( ၁၂၇၉ )

၁။ ပဲခူးတိုင်းဒေသကြီး၊ စက်မှုနယ်မြေရှိ မြေ(၅)ဧကအား ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့ (Lessor) မှ New Hope Singapore Ltd. (Lessee) သို့ တိရစ္ဆာန်အစားအစာစက်ရုံ ဆောက်လုပ်ရန်အတွက် ငှားရမ်းမည့် Land Lease Agreement (မူကြမ်း) အား ဥပဒေနှင့်အညီ ပြည့်စုံစွာဆောင်ရွက်နိုင်ရေးအတွက် စိစစ်လမ်းညွှန်မှုပြုနိုင်ပါရန် ပဲခူးတိုင်းဒေသကြီးဥပဒေချုပ်ရုံးမှ ရည်ညွှန်းချက်ပါစာဖြင့် တင်ပြလာသောကိစ္စဖြစ်ပါသည်။

၂။ ရည်ညွှန်းချက်ပါစာနှင့် ယင်းစာနှင့်အတူ ပူးတွဲပေးပို့လာသော Land Lease Agreement (မူကြမ်း)ကို ဥပဒေရှုထောင့်မှလေ့လာစိစစ်ပြီး အောက်ပါအတိုင်း သုံးသပ်အကြံပြုပါသည်-

(က) မြေငှားရမ်းမည့်ကုမ္ပဏီအမည်နှင့်စပ်လျဉ်း၍ ရည်ညွှန်းစာတွင် New Hope Singapore Ltd. ဟု ဖော်ပြထားပြီး စာချုပ်(မူကြမ်း) စာချုပ်ဝင်

များအပိုဒ်တွင် Myanmar New Hope Farms Co., Ltd ဟု ဖော်ပြထားပါသည်။ သို့ဖြစ်ပါ၍ စာချုပ်ဝင်အမည်နှင့်စပ်လျဉ်း၍ ရှင်းလင်းမှုရှိစေရန် ပြန်လည်စိစစ်သင့်ပါသည်၊

(ခ) စာချုပ်(မူကြမ်း)တွင် ကွက်လပ်များပါရှိနေကြောင်းတွေ့ရှိရပါသည်။ စာချုပ်ချုပ်ဆိုချိန်၌ အဆိုပါ ကွက်လပ်များဖြည့်စွက်ပြီးဖြစ် ရန်လိုအပ်မည်ဖြစ်ပါသည်၊

(ဂ) စာချုပ်(မူကြမ်း) WHEREAS ပထမပိုဒ်နှင့် အပိုဒ်ခွဲ 1.01 တို့တွင် ရည်ညွှန်းထားသော နောက်ဆက်တွဲ Appendix A မြေပုံမှာ စာချုပ်(မူကြမ်း)တွင်ပူးတွဲပါရှိလာခြင်းမရှိပါ။ နောက်ဆက်တွဲများသည် စာချုပ်၏တစ်စိတ်တစ်ဒေသဖြစ်သဖြင့် နောက်ဆက်တွဲပါဖော်ပြချက် သည် စာချုပ်ပါစည်းကမ်းချက်များနှင့် ညီညွတ်မှုရှိစေရန် ဌာနမှစိစစ်ရန်လိုအပ်ပါသည်။ ယခုချုပ်ဆိုမည့်စာချုပ်မှာ မြေငှားရမ်းခြင်းစာချုပ်ဖြစ်၍ ငှားရမ်းမည့်မြေအတွက်မြေပုံမှာ အရေးကြီးသဖြင့် စာချုပ်လက်မှတ်ရေးထိုးချိန်တွင် ပူးတွဲပါရှိရန်လိုအပ်ပါသည်။ ထို့ပြင် အဆိုပါနောက်ဆက်တွဲမြေပုံသည် သက်ဆိုင်ရာကြေးတိုင်နှင့် မြေစာရင်းဦးစီးဌာနမှရေးဆွဲထားသော မြေပုံဖြစ်ရန်လည်း လိုအပ်ပါသည်၊

(ဃ) စာချုပ်(မူကြမ်း) အပိုဒ် IV Effective Date of the Lease အပိုဒ်ခွဲ 4.02 တွင် မြေငှားကာလနှင့် စပ်လျဉ်း၍ဖော်ပြချက်မှာ အပိုဒ်ခွဲ 1.01 တွင် ဖော်ပြထားပြီးဖြစ်၍ ပယ်ဖျက်သင့်ပါသည်၊

<u>လျှို့ဝှက်</u>

(င) စာချုပ်(မူကြမ်း) အပိုဒ် II Annual Rental and Payment Terms တွင် ပေးသွင်းရမည့် မြေငှားရမ်းခကိုတိကျစွာဖော်ပြရန် လိုအပ်ပါသည်။ ထို့ပြင် အပိုဒ်ခွဲ 2.02 တွင် နှစ်စဉ်ငှားရမ်းခကို financial year နှင့် တွက်ချက်ပြီး ပေးသွင်းရန်ဖော်ပြထားပါသည်။ ပထမဆုံးနှစ်အတွက် အဆင်ပြေမည်မဟုတ်ဟု ယူဆသဖြင့် ယင်းနှစ်အတွက် သီးခြားစည်းကမ်းချက်ဖြင့် ဖော်ပြသင့်ပါသည်၊

(စ) စာချုပ်(မူကြမ်း) အပိုဒ် VI Lessor's Obligation အပိုဒ်ခွဲ 6.01(2) နှင့် 6.01(3) တို့တွင် Lessor မှ ကူညီဆောင်ရွက်ပေးရမည့်ကိစ္စရပ်များမှာ အခြားဌာနများနှင့်သက်ဆိုင်နေသည့်အတွက် သက်ဆိုင်ရာဌာနများနှင့် ကြိုတင်ညှိနှိုင်းဆောင်ရွက်ရန် လိုအပ်ပါသည်၊

(ဆ) စာချုပ်(မူကြမ်း) အပိုဒ်ခွဲ 6.01(2) တွင် ဖော်ပြထားသော IDD telephones နှင့် အပိုဒ်ခွဲ 18.01 တွင်ဖော်ပြထားသော PFI Industries Factory တို့၏ အဓိပ္ပာယ်အပြည့်အစုံစာသားကို ဖော်ပြရန်လိုအပ်ပါသည်၊

(ဇ) စာချုပ်(မူကြမ်း) အပိုဒ် XVIII Integral Part of the Contract Regarding One Hundred Percent Foreign Investment ခေါင်းစဉ်အောက်ရှိအပိုဒ်ခွဲ 18.01 တွင် ဤမြေငှားစာချုပ်သည် PFI Industries Factory ထူထောင်ခြင်းအတွက် စာချုပ်ဝင်များအကြား တစ်နေ့တည်း လက်မှတ်ရေးထိုးသော Contract Regarding 100% Foreign Investment ၏ တစ်စိတ် တစ်ဒေသဖြစ်သည်ဟုဖော်ပြထား

ပါ သည်။ သို့ရာတွင် ရည်ညွှန်းစာနှင့်အတူ အဆိုပါစာချုပ်ပါရှိလာခြင်း မရှိသဖြင့် ဌာနမှ ပြန်လည်စိစစ်ရန်ဖြစ် ပါသည်၊

(ဈ) စာချုပ်(မူကြမ်း)ပါ စာချုပ်ဝင်အမည် Lessee နေရာတွင် လက်မှတ်ရေးထိုးသူ နှင့် သက်သေနေရာရှိအမည်များမှာ Mr. Li Pingwen တစ်ဦးတည်းဖြစ်နေခြင်း၊ အပိုဒ် XIX Notice နှင့် လက်မှတ်ရေးထိုးသူနေရာများ၌ လိပ်စာ များမပါရှိခြင်းတို့အတွက် ပြန်လည်စိစစ်ရန်ဖြစ်ပါသည်၊

(ည) မြေငှားစာချုပ်များတွင်ရယူလေ့ရှိသော မြေအသုံးချမှုပရီမီယံ (Land Use Premiums) ကို ရယူထားခြင်းမတွေ့ရပါ။ ပြည်ထောင်စုအစိုးရအဖွဲ့၏ ၃၀-၉-၂၀၁၁ ရက်စွဲပါအမိန့်ကြော်ငြာစာအမှတ်၊ ၃၉/ ၂၀၁၁ ၏ အပိုဒ် ၁၇ အရ မြေငှားခပရီမီယံကြေးကို သက်ဆိုင်ရာဌာနက မြေငှားသူထံမှတောင်းခံရန် ညွှန်ကြားထားသည်ကို သိရှိလိုက်နာနိုင်ရန် ဖော်ပြအပ်ပါသည်၊

(ဋ) လိုအပ်သော နေရာအချို့တွင် မင်နီဖြင့် ပြင်ဆင် ဖြည့်စွက်ပေးလိုက်ပါသည်။

၃။ တံဆိပ်ခေါင်းအက်ဥပဒေပုဒ်မ ၉ အရ တံဆိပ်ခေါင်းခွန်ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်မရှိသေးလျှင် မြေငှားစာချုပ်ပေါ်တွင် တံဆိပ်ခေါင်းအက်ဥပဒေအရ ကျသင့်သော တံဆိပ်ခေါင်းခွန်ကို အငှားချထားခြင်းခံရသူက ထမ်းဆောင်ရမည်ဖြစ်ပါသည်။

၄။ ဤ စာချုပ်(မူကြမ်း) ကို ပြည်ထောင်စုရှေ့နေချုပ်ဥပဒေနှင့်အညီ ဥပဒေကြောင်းအရသာ ဥပဒေအကြံဉာဏ် ပေးခြင်းဖြစ်ပါသည်။ ဥပဒေရေးရာမဟုတ်သည့် စီမံရေးရာ၊ ဘဏ္ဍာရေးရာ၊ ကျွမ်းကျင်မှုဆိုင်ရာကိစ္စရပ်များကို ဤရုံးအနေဖြင့် မှတ်ချက်ပေးရန် မရှိပါ

ကြောင်းနှင့် ယင်းကိစ္စရပ်များနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာကျွမ်းကျင်သူများနှင့် ဆွေးနွေး ညှိနှိုင်းဆောင်ရွက်ရန် အကြံပြုပါသည်။

၅။ Myanmar New Hope Farms Co., Ltd သည် ဥပဒေအရ တရားဝင် ဖွဲ့စည်းထားသောကုမ္ပဏီဟုတ် မဟုတ်၊ စာချုပ်ပါလုပ်ငန်းကိုလုပ်ကိုင်နိုင်ခွင့်နှင့် လုပ်ကိုင်နိုင် စွမ်းရှိ မရှိ၊ ငွေကြေးအင်အားပြည့်စုံမှု ရှိ မရှိ၊ စာချုပ်တွင် လက်မှတ်ရေးထိုးမည့်သူသည် တရားဝင်လွှဲအပ်ခြင်းခံရသူများဟုတ် မဟုတ် စသည့်အချက်များနှင့် စပ်လျဉ်း၍ ကြိုတင်စိစစ် ရန်လိုအပ်မည်ဖြစ်ပါသည်။

၆။ စာချုပ်(မူကြမ်း)ကို လက်မှတ်ရေးထိုးချုပ်ဆိုပြီးပါက မှတ်တမ်းတင် ထားရှိ နိုင်ရန်အတွက် ဤရုံးသို့ စာချုပ်မိတ္တူ(၃)စောင်ပေးပို့ပါရန် မေတ္တာရပ်ခံအပ်ပါသည်။

6. 9. 12

ညွှန်ကြားရေးမှူးချုပ်(ကိုယ်စား)

( ခင်မောင်ဦး ၊ ညွှန်ကြားရေးမှူး)

ပဲခူးတိုင်းဒေသကြီးဥပဒေချုပ်ရုံး

# LAND LEASE AGREEMENT

This LEASE AGREEMENT made and entered into at ... Bago ... 1st Day of July Two Thousand & Twelve

## BY AND BETWEEN

The Bago Regional Government, The Republic of the Union of Myanmar, represented for this purpose, by its the Secretary of Bago Region Government)(hereinafter ~~called and~~ referred to as "the LESSOR" which expression shall, except where the context requires another and different meaning therefrom, include its successors, ~~legal representatives~~ and permitted assigns of the ONE PART.

AND

MYANMAR NEW HOPE FARMS CO. Ltd (~~under~~ incorporated and registered ~~(…)~~ ~~according to~~ under the Myanmar Companies Act as 100% (One Hundred Percent) owned foreign company in the Republic of the Union of Myanmar (hereinafter called and referred to as "the LESSEE" which expression shall, except where the context requires another and different meaning the therefrom, include its successors, legal representatives and permitted assign) represented for this purpose by its Executive Director Mr. ... Pingwei ... citizen of the People's Republic of China of the other part

**WITNESSETH AS FOLLOWS :**

WHEREAS the LESSEE is desirous of entering into this Lease Agreement for utilizing the lease land of 5 acres equivalent to 20000 square metres at Plot No Industrial Area Bago, described in the map as per Appendix A attached hereto (which shall form an integral part of this Lease Agreement) to construt Animal Feedmill Factory thereon to produce Layer, Broiler, Pig and Fish feed Products WHEREAS the LESSOR is desirous of leasing the land plot for 30 (Thirty) **years extendable to 15-fifteen years two terms** as afore-mentioned to the LESSEE to enhance industrial development, whereby promotion the foreign investment in Myanmar; WHEREAS the LESSOR represents and warrants that it has the legal and beneficial right on the said land; and WHEREAS both the LESSOR and the LESSEE hereto are legally authorised to enter into this Lease Agreement

NOW, THEREFORE, THE PARTIES HERETO HEREBY AGREE AS FOLLOWS:

## ARTICLE I : SCOPE OF AGREEMENT

1-01 In consideration of the rent hereinafter reserved and the covenants made by the LESSEE hereinafter contained, the LESSOR both hereby unto the LESSEE all that piece of land at Plot No.--- of Industrial Area , Bago, Myanmar measuring acres equivalent to 20000 square meters as per map attached as Appendix A hereto (which shall form an integral part of this Lease Agreement) together with all the rights, basements, appurtenances thereto, except all mines, mineral deposits, gemstones, coal petroleum and other natural resources as well as burried treasure and gems occurings in, under or within the said land for a term of **30 (Thirty) years extendable to 15-fifteen years two terms from the date of signing this Lease Agreement.**

1-02 On expiry of 30 (Thirty) years' term of the lease extendable to 15-fifteen years two terms, this lease may be renewed for further terms with the consent of the LESSOR and subject to the approval of the Myanmar Investment Commission (hereinafter ~~called~~ referred to as MIC).

## ARTICLE II : ANNUAL RENTAL AND PAYMENT TERMS

2-01 The annual rent for the land shall be calculated at the following rates as per decision **made by the cabinet of Bago Regional Government.**

US$ per square meter for 1st 10 years

US$ per square meter for 2nd 10 years

US$ per square meter for 3rd 10 years

- After 30years the price shall be ~~fixed~~ revised according the mutual agreement between two parties.

2-02 Payment of annual rent shall be made in advance in the first month of year of every financial year.

2-03 The payment of first annual rental shall be made within 30 days after getting MIC permit

2-04 The rent shall be calculated from the date of signing this Lease Agreement.

## ARTICLE III : PLACE OF BUSINESS AND FACTORY

3-01 The Place of business and factory of the LESSEE shall be in Bago, Myanmar. The LESSEE may also have registered offices at such other places as may be determined by the Board of Directors.

## ARTICLE IV : EFFECTIVE DATE OF THE LEASE

4-01 The effective date of this Lease Agreement shall be the date on which this Lease Agreement is signed by both the LESSOR and the LESSEE

4-02 The 30 (thirty) years extendable to further 15 fifteen-year 2 terms of the lease

shall be counted from the date of signing of this Agreement

ARTICLE V : LESSEE'S OBLIGATIONS

5-01 The LESSEE hereby convenants with the LESSOR for the following

5.01(1) ~~5-01 (1)~~to pay the said rent on the days and in the manner hereinbefore appointed for payment thereof and to pay for all the charges to be collected by respective authorities with respect to any services provided ;

5.01(2) ~~5-01 (2)~~not to sub-lease, assign or transfer the whole or any part of the lease hold interest hereby created, concerning the leased premises or any part thereof, without the consent of the LESSOR and the approval of the Myanmar Investment Commission.;

5.01(3) ~~5-01 (3)~~to utilize the leased land for the purpose of constructing Animal Feedmill Factory and thereafter to install plant and equipment for processing, preserving, marketing locally or overseas, Layer, Broiler, Pig and Fish Feed Products and for no other purposes.;

5.01(4) ~~5-01 (4)~~to accomplish the first phase of the construction of the factory of Animal Feedmill Factory building within two years from the date of signing this Agreement in accordance with the design concept (Appendix --). ;

5.01(5) ~~5-01 (5)~~to ensure that all activities and operations on the premises or any part thereof including the Animal Feedmill Factory under lease and other related facilities, are in conformity with the laws, regulations and directives of the Republic of Union of Myanmar. ;

5.01(6) ~~5-01 (6)~~The LESSEE shall be responsible for protection as well as preservation of the environment in and around the work-site, and shall be able to control pollution of air, water and land and not to cause any environmental degradation. The LESSEE shall also take necessary measures in order to make environmental protection and other treatment procedures to keep the work-site environmentally friendly. ;

5.01(7) ~~5-01 (7)~~to surrender the lease within 3 (three) months of prior notice served to the LESSOR and take away or dispose of all moveable properties not affecting the LESSOR's right to claim for the rent up to the date of complete evacuation and damages caused to the land, in the event of termination under Clause 14-03.

ARTICLE VI : LESSOR'S OBLIGATIONS

6-01 The LESSEE paying the rent hereinbefore mentioned and performing and observ

ing the covenants hereinbefore contained, the LESSOR hereby covenants with the LESSEE for the following

6-01(1)The LESSOR shall pay all land revenues imposed on the leased land

6-01(2)The Lessor is to assist in getting sufficient electricity power supply, with the required IDD telephones, fax lines and internet lines

6-01 (3)The Lessor has to assist in getting the requisite licences and permits from relevant authorities in Myanmar

## ARTICLE VII : LESSORS' RIGHTS

7-01 The LESSOR shall have the right to empower its to the **Secretary of the Cabinet or all persons** acting under his order to be at liberty at all reasonable times during the term of the lease to enter upon the said leased land or any buildings thereon for any purpose related to the lease.

7-02 If the LESSEE in any substantial respect fails to perform or observe the terms and conditions of this Lease and fails to rectify such non-performance or non-observance within 60 (sixty) days after notice in writing from the LESSOR of such default, the LESSOR shall be at liberty to re-enter upon and take possession of the whole complex of the lease land and the Lease shall, thereupon, cease and determine, provided that such right of re-entry shall not prejudice any right of action of the LESSOR for recovery of money from the LESSEE by way of rent or compensation for damages.

7-03 The LESSEE may peacefully and quietly hold the leased premises during the term of the Lease Agreement without any interruption or disturbance of whatsoever nature by the LESSOR or any person lawfully claiming to represent the LESSOR.

## ARTICLE VIII : GOVERNING LAW & JURISDICTION

8-01 This Lease Agreement shall be read, construed, interpreted and governed, in all respects, by the laws of the Republic of Union of Myanmar and the parties hereby submit to the jurisdiction of the relevant court of Myanmar and all courts competent to hear appeals therefrom.

## ARTICLE IX: WARRANTY AND REPRESENTATION

9-01 Each party represents and warrants to the other that it is a legal person duly authorised under the relevant laws and has the right, power, sound financial standing and authority to enter into this Lease Agreement.

## ARTICLE X : CONDITION PRECEDENT

10-01 This Lease Agreement is conditional upon receipt of all necessary and requisite approvals for its performance and implementation of this Lease Agreement